ကန့်သတ်

ကုမ္ပဏီအမည် - Peng Sheng Wood China Company Limited

လုပ်ငန်း - လေးဘက်ချော၊ စကောတင်သစ်ခွဲသားများနှင့် သစ်အချောထည်များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၆-၅-၂၀၁၅ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ စိစစ်ရန် ပေးပို့ခြင်း | ၁၁-၅-၂၀၁၅ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (ပထမအကြိမ်) | ၁၂-၅-၂၀၁၅ | | |
| | ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (ဒုတိယ အကြိမ်) | ၂၉-၅-၂၀၁၅ | ၂-၆-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၂-၅-၂၀၁၅ | ၂၅-၅-၂၀၁၅ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၁၂-၅-၂၀၁၅ | ၂၇-၅-၂၀၁၅ | |
| ၄ | PAT တင်ပြခြင်း | ၁၁-၅-၂၀၁၅<br>၁၆/၂၀၁၅ | | |
| ၅ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၁၄-၅-၂၀၁၅ | | |
| ၆ | PAT ဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၂၀-၅-၂၀၁၅ | | |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင် တင်ပြခြင်း | ၂၇-၅-၂၀၁၅ | | |
| ၈ | မြေအသုံးပြုခွင့်တင်ပြခြင်း | | | |
| | (က) ကော်မရှင်အစည်းအဝေး (၉/၂၀၁၅) သို့ တင်ပြခြင်း | ၁၈-၅-၂၀၁၅ | | |
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေး (၉/၂၀၁၅) သို့ တင်ပြခြင်း | ၂၈-၅-၂၀၁၅ | | |
| | (ဂ) ပြည်ထောင်စုအစိုးရအဖွဲ့ သို့ တင်ပြခြင်း | | | ဆောင်ရွက်ဆဲ |
| ၉ | ကုမ္ပဏီမှ အဆိုပြုချက် အစုံ(၁၅) ပေးပို့ခြင်း | ၁-၇-၂၀၁၅ | | |
| ၁၀ | ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၃-၇-၂၀၁၅ | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၅၈ ရက် | | |

ကန့်သတ်

| | |
|---|---|
| ကုမ္ပဏီအမည် | Peng Sheng Wood China Company Limited |
| အဖွဲ့အစည်းပုံသဏ္ဌာန် | ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | လေးဘက်ချော၊ စကာတင်သစ်ခွဲသားများနှင့် သစ်အချောထည်များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာဓုကန် စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်- ၅၁၊ မြေကွက်အမှတ်-၁၂၈+၁၂၉ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | အမေရိကန်ဒေါ်လာ ၁.၀၇၀ သန်း |
| ရောင်းချမည့်စနစ် | ၁၀၀% ပြည်ပပို့ |
| လုပ်ငန်းသက်တမ်း | ၅၀ နှစ် |
| အရင်းကြေကာလ | ၆ နှစ် ၈လ |
| IRR | ၂၃.၀၀% |

အထက်ပါ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၂၅.၆၅၀ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၃၇၈၄.၈ |
| ၅ | ဝင်ငွေခွန် | ၄၁၆.၆၄ | ၂၆၅.၀၅ |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၅၃ |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်းနှစ်ဆယ်ထက် ကျော်ပါ အခွန်ပေးရမည့် ဝန်ထမ်း(၅၃)ဦး |
| ၈ | CSR ( ၂ %) | | ၄.၇၅ |
| ၉ | မြေငှားရမ်းခရငွေ | | ၁၉.၉၅၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၇၈ ဦး ပြည်တွင်း လုပ်သား(၇၈)ဦးအလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက် အကူပြုစေပါသည်။ |
| | | ၄၄၄.၄၅၀ | ၄၁၃၂.၇၁၅ |
| | Cost & Benefit | ၁:၉ | |

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Peng Sheng Wood China Company Limited မှ လေးဘက်ရှော၊ စကာတင်သစ်ခွဲသားများနှင့် သစ်အချောထည်များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Peng Sheng Wood China Co.,Ltd. |
| | | - Mr. Meng, Jianyu |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - လေးဘက်ရှော၊ စကာတင်သစ်ခွဲသားများနှင့် သစ်အချောထည်များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ရွှေပြည်သာမြို့နယ်၊ သာဓုကန်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၅၁၊ မြေကွက်အမှတ်-(၁၂၈+၁၂၉) |
| | မြေပိုင်ရှင် | - ဦးရဲမြင့်စိုး |
| | မြေအကျယ်အဝန်း | စုစုပေါင်း ၁.၅ ဧက (၆၀၇၀.၂၉ စတုရန်းမီတာ) |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ်လျှင် US$ ၃၀,၉၅၈.၄၈ နှုန်း (တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၅.၁ နှုန်း) |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ်(သက်တမ်းတိုး ၁၀နှစ် ၂ကြိမ်) |
| | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၁.၀၇၀ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | **(အမေရိကန်ဒေါ်လာ - သန်းပေါင်း)** |
| | ငွေပမာဏ | ၀.၁၅၀ |
| | စက်ပစ္စည်းကိရိယာ | ၀.၂၄၅ |
| | လျှပ်စစ်ပစ္စည်း | ၀.၀၂၅ |
| | အခြား(မော်တော်ယာဉ်) | ၀.၆၅၀ |
| | **စုစုပေါင်း** | **၁.၀၇၀** |
| ၆။ | ဝန်ထမ်းအင်အား | - ၈၃ ဦး |
| | ပြည်တွင်း | - ၇၈ ဦး ( ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ကျပ် ၁၀၀,၀၀၀ နှင့်အမြင့်ဆုံးလစာ ကျပ် ၅၀၀,၀၀၀) |
| | ပြည်ပ | - ၅ ဦး(ပြည်ပဝန်ထမ်းတစ်ဦး၏ လစာ US$ ၁,၅၀၀.၀၀) |
| ၇။ | ရောင်းချမည့်စနစ် | - ၁၀၀ % ပြည်ပပို့ |

| | | |
|---|---|---|
| ၈။ | ရောင်းချမည့်ပစ္စည်း (ပုံမှန်နှစ်)<br>ပြည်ပပို့ (၁၀၀%) | စဉ် အမျိုးအမည် အရေအတွက် (HT) ရောင်းချမည့်ဈေးနှုန်း (US$/ HT)<br>(က) Padauk<br>(၁) Square ၁,၇၅၀ ၄,၄၀၀<br>(၂) Scantling ၇၂၅ ၃,၇၀၀<br>(ခ) Tamalan<br>(၁) Square ၁,၀၅၀ ၄,၁၀၀<br>(၂) Scantling ၇၅၀ ၃,၃၀၀<br>(ဂ) Teak<br>(၁) Square ၁,၀၅၀ ၂,၄၀၀<br>(၂) Scantling ၇၅၀ ၂,၀၀၀ |
| ၉။ | ကုမ္ပဏီ၏ ဝင်ငွေ (ပုံမှန်နှစ်)<br>အသုံးစရိတ်<br>ကုမ္ပဏီ၏အသားတင်အမြတ်(ပုံမှန်နှစ်) | -US$ ၂၁.၁၈ သန်း<br>- US$ ၂၀.၃၄ သန်း<br>- US$ ၀.၈၄ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန်<br>အရင်းကြေကာလ<br>အရင်းအနှီးအပေါ်အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း (IRR) | <br>- US$ ၀.၂၇၈ သန်း<br>- US$ ၅.၂၉၅ သန်း<br>- ၆ နှစ် ၈ လ<br>- ၂၃ % |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၆၃၀,၀၀၀ Unit |
| ၁၂။ | CSR | - အမြတ်ငွေ၏ ၂% အား CSR ရန်ပုံငွေအဖြစ် ထားရှိသုံးစွဲသွားမည်ဖြစ်ပါသည်။ |
| ၁၃။ | မီးဘေးအန္တရာယ် ကြိုတင် ကာကွယ်မှု အစီအစဉ် | - သံကူ၊ ရေလှောင် ကန်ထားရှိခြင်း၊ မီးသတ်ဘူး၊ ရေပုံး၊ မီးကပ်၊ မီးချိတ်၊ သဲအိတ်များထားရှိခြင်း၊ ဝန်ထမ်းများအား မီးဘေး အန္တရာယ်ကာကွယ်ရန် စည်းကမ်းချက်များ ထားရှိ၍ တိကျစွာလိုက်နာဆောင်ရွက်စေခြင်း၊အရေးပေါ် မီးသတ်နည်း ပညာများ လေ့ကျင့်သင်ကြားပေးခြင်း၊ ဆေးလိပ် သောက်ခြင်း အား တားမြစ်ထားခြင်းတို့ကို ဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၄။ | အခြားတင်ပြချက် | - Peng Sheng Wood China Co.,Ltd ၏ MOA, AOA မူကြမ်း တင်ပြထားပါသည်။<br>- ဒါရိုက်တာ အဖွဲ့ဝင်များ၏ နိုင်ငံကူးလက်မှတ် မိတ္တူများ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - မြေပိုင်ရှင် ဦးရဲမြင့်စိုးနှင့် မြေငှားသူ Peng Sheng Wood China Co., Ltd တို့ချုပ်ဆိုထားမည့် မြေငှားစာချုပ် (မူကြမ်း) တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးရဲမြင့်စိုး အမည်ပေါက် မြေအသုံးပြုခွင့်(မိတ္တူ) တင်ပြထားပါသည်။<br>- Mr. Meng, Jianyu ၏ တရုတ်နိုင်ငံရှိ Bank of China ၌ (၁၃-၁၁-၂၀၁၄)ရက်နေ့ရှိ CNY ၁,၀၀၀,၀၀၀.၀၀ ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြထားပါသည်။<br>- Mr. Qin ChangChun ၏ တရုတ်နိုင်ငံရှိ Agricultural Bank of China ၌ (၁၁-၁၁-၂၀၁၄) ရက်နေ့ရှိ CNY ၃၅၀၀၀.၀၀ ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြထားပါသည်။<br><br>- ကုန်ကြမ်း ရယူသုံးစွဲမည့် အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်း သက်သာချောင်ချိရေး စီမံချက်၊ ဝန်ထမ်းများ၏ ကျန်းမာရေး အတွက် စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်း စောင့်ရှောက်မည် ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ် သမားများ လစာအပေါ် ဝင်ငွေခွန် ပေးဆောင်မည် ဖြစ် ကြောင်း ဝန်ခံကတိပြုစာ၊ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာ ခွင့်များ လျှောက်ထားချက် နှင့် CSR အတွက် အသားတင် အမြတ်မှ ၂% ရာထားသုံးစွဲ မည်ဖြစ်ကြောင်း Project တို့ကို တင်ပြထားပါသည်၊ ကုမ္ပဏီ ပိုင် သစ်တောစိုက်ခင်း များ ထူထောင်စိုက်ပျိုးမည်ဖြစ်ကြောင်း တင်ပြချက်။ |
| ၁၅။ | စိစစ်တင်ပြချက် | - မြေပိုင်ရှင် ဦးရဲမြင့်စိုး ကိုယ်တိုင်မြေဂရန်ရရှိရေးအတွက် မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန၊ ရန်ကုန်မြို့တော် စည်ပင် သာယာရေး ကော်မတီသို့ ပေးသွင်းထားသော ငွေသွင်းဖြတ် ပိုင်း တင်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက -၂/န - ၁၂၄/၂၀၁၅(၅၃၀-က)

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၃ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
## တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Peng Sheng Wood China Company Limited မှ လေးဘက်ချော၊ စကားတင်သစ်ခွဲသားများနှင့် သစ်အချောထည်များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စ**

၁။ တရုတ်နိုင်ငံသား Mr. Meng, Jianyu မှ ၈၀%နှင့် တရုတ်နိုင်ငံသားMr. Qin,Changchun မှ ၂၀% အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Peng Sheng Wood China Company Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊သာစုကနိစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၅၁၊ မြေကွက်အမှတ်-(၁၂၈+၁၂၉)ရှိ စုစုပေါင်း မြေအကျယ်အဝန်း ၅.၆၆၃၈ဧက အနက် ၁.၅ ဧက (၆,၀၇၀.၂၉ စတုရန်းမီတာ)ကို ငှားရမ်းကာ လေးဘက်ချော၊ စကားတင်သစ်ခွဲသားများနှင့် သစ်အချောထည်များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးရဲမြင့်စိုးနှင့် မြေငှားသူ Peng Sheng Wood China Company Limited တို့ ချုပ်ဆိုမည့် မြေငှားရမ်းစာချုပ် (မူကြမ်း)ကို တင်ပြထားပါသည်။

၃။ မြေအကျယ်အဝန်းမှာ ၁.၅ ဧက (၆၀၇၀.၂၉ စတုရန်းမီတာ) ဖြစ်ပြီး မြေငှားရမ်းခမှာ တစ်နှစ်လျှင် US$ ၃၀,၉၅၈.၄၈နှုန်း (တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၅.၁ နှုန်း) တင်ပြထားပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၁.၀၇၀ သန်း ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

**(US$ သန်း)**

| | | |
|---|---|---|
| (က) | ငွေပမာဏ | ၀.၁၅၀ |
| (ခ) | စက်ပစ္စည်းကိရိယာ | ၀.၂၃၅ |
| (ဂ) | လျှပ်စစ်ပစ္စည်း | ၀.၀၃၅ |
| (ဃ) | အခြား(အဆောက်အအုံ) | ၀.၆၅၀ |
| | **စုစုပေါင်း** | ၁.၀၇၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ (၇၈) ဦးနှင့် ပြည်ပမှ ကျွမ်းကျင်ဝန်ထမ်းဦးရေ (၅) ဦး စုစုပေါင်း (၈၃) ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ကြောင်းနှင့် ပြည်ပဝန်ထမ်း တစ်ဦး၏ လစာမှာ အမေရိကန် ဒေါ်လာ ၁,၅၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် လေးဘက်ချော၊ စက္ကာတင်သစ်ခွဲသားများနှင့် သစ်အချောထည်များအား ပြည်ပသို့ ၁၀၀% တင်ပို့ရောင်းချမည် ဖြစ်ပါသည်။ နှစ်စဉ်ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှုနှင့် ရောင်းချမည့်ဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **စဉ် အမျိုးအမည်** | **အရေအတွက် (H.T)** | **ရောင်းချမည့်ဈေးနှုန်း (US$/ H.T)** |
|---|---|---|
| (က) Padauk | | |
| (၁) Square | ၁,၇၅၀ | ၄,၄၀၀ |
| (၂) Scantling | ၇၂၅ | ၃,၇၀၀ |
| (ခ) Tamalan | | |
| (၁) Square | ၁,၀၅၀ | ၄,၁၀၀ |
| (၂) Scantling | ၇၅၀ | ၃,၃၀၀ |
| (ဂ) Teak | | |
| (၁) Square | ၁,၀၅၀ | ၂,၄၀၀ |
| (၂) Scantling | ၇၅၀ | ၂,၀၀၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်)တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | **(US$ သန်း)** |
|---|---|---|
| (က) | ဝင်ငွေ | ၂၁.၁၈ |
| (ခ) | အသုံးစရိတ် | ၂၀.၃၄ |
| (ဂ) | အသားတင်အမြတ် | ၀.၈၄ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ဆဋ္ဌမမြောက်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၂၇၈ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၆ နှစ်နှင့် ၈လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၃ % ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ** ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ လုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား ၇၈ ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းများနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊ ဖော်ပြပါ မြေနေရာအား စက်ရုံအတွက် လုပ်ငန်းဆောင်ရွက်သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေးတို့ကို အကျိုးအမြတ်ပေးနိုင်ခြင်း၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့ အရ လက်ခံနိုင်ပါကြောင်းနှင့် အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှုများ ရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက်အလက်များအား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ် အသုံးပြုခြင်း၊ အဆိုပြုလွှာတွင် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR)အတွက် အသားတင်အမြတ်ငွေမှ ၂% ထည့်ဝင်ရန် အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးအတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environment Examination) ဆောင်ရွက်ပြီး (IEE) အစီရင်ခံစာ တင်ပြရန်၊ အထက်ပါ ဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက် (EMP) ရေးဆွဲတင်ပြရန်နှင့် အစီရင်ခံစာအရ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ရေရှည်တွင် ကုန်ကြမ်းရရှိရေးအတွက် ကုမ္ပဏီပိုင်သစ်တောစိုက်ခင်းများ ထူထောင်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်

ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေး ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

၁၁။ ငွေရေးကြေးရေးအထောက်အထားအဖြစ် Mr. Meng Jianyu ၏ တရုတ်နိုင်ငံရှိ Bank of China ၌ (၁၃-၁၁-၂၀၁၄) ရက်နေ့ရှိ CNY ၁,၀၀၀,၀၀၀.၀၀ ကို လည်းကောင်း၊ Mr. Qin ChangChun ၏ တရုတ်နိုင်ငံရှိ Agricultural Bank of China ၌ (၁၁-၁၁-၂၀၁၄) ရက်နေ့ရှိ CNY ၃၅,၀၀၀.၀၀ ကို လည်းကောင်း တင်ပြထားပါသည်။

၁၂။ Peng Sheng Wood China Company Limited မှ ကုမ္ပဏီပိုင်သစ်တောစိုက်ခင်းများ ထူထောင်စိုက်ပျိုးမည်ဖြစ်ကြောင်းတင်ပြစာ၊ မီးဘေးကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေး နှင့် ဝန်ထမ်းသက်သာ ချောင်ချိရေးစီမံချက်၊ ဝန်ထမ်းများ၏ကျန်းမာရေးစောင့်ရှောက်မှုစီမံချက်၊ လစာခွန်ပေးဆောင်မည် ဖြစ်ကြောင်းဝန်ခံကတိပြုချက်၊ CSR အတွက် အသားတင်အမြတ်မှ ၂% ရာထားသုံးစွဲမည့် အစီအစဉ်များကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄ ၏ စီးပွားရေး လုပ်ငန်း အမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့်လုပ်ငန်း စာရင်းတွင်မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် မေလ ၁၁ ရက်နေ့ တွင် ကျင်းပပြုလုပ်သည့် (၁၆/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၁၆။ **စိစစ်တင်ပြချက်**

(က) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စအား ကော်မရှင်၏ ၉/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပြီး စီးပွားရေးရာ ကော်မတီ၏ ၉/၂၀၁၅ ကြိမ်မြောက်အစည်းအဝေးနှင့် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးများသို့ ဆက်လက် တင်ပြထားပါသည်။

(ခ) ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင် ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

(ဂ) မြေဂရန် ရရှိရေးအတွက် မြေပိုင်ရှင် ဦးရဲမြင့်စိုး ကိုယ်တိုင် မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီသို့ ပေးသွင်းထားသော ငွေသွင်းဖြတ်ပိုင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ Peng Sheng Wood China Company Limited မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် လေးဘက်ချော၊ စကားတင်သစ်ခွဲသားများနှင့် သစ်အချောထည်များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာခြင်းကိစ္စ အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Peng Sheng Wood China Company Limited | (၁) Peng Sheng Wood China Company Limited. (Represented by) Mr. Meng Jianyu Chinese PPNo-E 24877967 | Building.(13),No.(1),Room(401), Yojing Jiang Shan, No.230. Yang Chun Road, GAO Ping District, Nanchong City, Sichuan Province, China. |
| | | (၂) Mr. Qin Changchun Chinese PPNo-E 31033223 | Building.(5), No.(2), 21 Floor, Feicui Hai Wan Shuyao Dong Lu, Jin Niu District, Cheng Du City, Sichuan Province, China. |

ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊

၁။ ဖက်စ်နံပါတ် - ၀၉-၅၀၆၂၅၃၈

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ်-၁၇၂၊ ခရေပင်ရိပ်မွန်၊ ပန်းဝိတောက်လမ်း၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်မြို့

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဒေါ်စန္ဒာလင်း

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - လေးဘက်ချော၊ စကာတင် သစ်ခွဲသားများနှင့် သစ်အချောထည်များ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -

**ကန့်သတ်**

**နောက်ဆက်တွဲ-က**

၁၂

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**



စာအမှတ်၊ ၃ / ၆၂ - ၁ - (၄၃) / ဘဏ္ဍာ
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ မေလ ၃၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂. ၅. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရကာ - ၂/ န-၁၂၄ / ၂၀၁၅ (၃၅၃)

၁။ တရုတ်နိုင်ငံသား Mr. Meng, Jianyu မှ ၈၀% နှင့် တရုတ်နိုင်ငံသား Mr. Qin, Changchun မှ ၂၀% အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Peng Sheng Wood China Co.,Ltd. တည်ထောင်ကာ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာခုကန်စက်မှုဇုန်၊ နဝရတ်လမ်း၊ အမှတ် (၁၂၈+၁၂၉)ရှိ စုစုပေါင်း မြေအကျယ်အဝန်း ၁. ၅ ဧက (၆,၀၇၀. ၂၉ စတုရန်းမီတာ)ကို ငှားရမ်းကာ သစ်ခွဲသားနှင့် သစ်အချောထည် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၇၈)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာခုကန်စက်မှုဇုန်၊ နဝရတ်လမ်း၊ အမှတ် (၁၂၈+၁၂၉)ရှိ စုစုပေါင်း မြေအကျယ်အဝန်း ၁. ၅ ဧက (၆,၀၇၀. ၂၉ စတုရန်းမီတာ)အား တစ်နှစ်အတွက် တစ်စတုရန်းမီတာလျှင် USD ၅. ၁ နှုန်းဖြင့် (၁၀+၁၀+၁၀+၁၀+၁၀)နှစ်၊ နှစ်(၅၀)ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2015/Cabinet/26.11

**ကန့်သတ်**

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၂၆. ၅. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၆/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၁၆)အရ Peng Sheng Wood China Co.,Ltd.၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးဘဏ္ဍာရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရွှေပြည်သာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Peng Sheng Wood China Co.,Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

D/2015/Cabinet/26..12



ကန့်သတ်
၁၄

**နောက်ဆက်တွဲ- ၈**



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

ITC၊ ၆၀ / ၃၅၇၁

စာအမှတ် ၃(၁)/၁၁(ဃ)(၆)/( ၅၀၁ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ မေလ ၂၁ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂ - ၅ - ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂ / န - ၁၂၄ / ၂၀၁၅ ( ၃၅၄ )

၁။ အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ တရုတ်နိုင်ငံသား Mr. Meng, Jianyu မှ ( ၈၀ % ) နှင့် တရုတ်နိုင်ငံသား Mr. Qin, Changchun မှ ( ၂၀ % ) အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Peng Sheng Wood China Co., Ltd. တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာစုကနစ်စက်မှုဇုန်၊ နဝရတ်လမ်း၊ အမှတ် - (၁၂၈+၁၂၉) ရှိ စုစုပေါင်းမြေအကျယ်အဝန်း ( ၁.၅ ) ဧက (၆,၀၇၀.၂၉) ကို ငှားရမ်းကာ သစ်ခွဲသား နှင့် သစ်ချောထည် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စ နှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၂။ သစ်ခွဲသား နှင့် သစ်အချောထည် ထုတ်လုပ်ခြင်းလုပ်ငန်းတွင် ကုန်ကြမ်းပစ္စည်းများ သိုလှောင်ခြင်း၊သုံးစွဲခြင်း၊လုပ်ငန်းအဆင့်ဆင့်မှ စွန့်ပစ်ပစ္စည်း နှင့် စွန့်ပစ်အရည်များ၊ သစ်အမှုန်အမွှားများ ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်တွင် ရေ ၊ လေ ၊ မြေ ညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း ၊ စက်ရုံလည်ပတ်ခြင်းမှ ထွက်ရှိလာသည့် ဆူညံသံများကြောင့် အသံညစ်ညမ်းမှု နှင့် စက်ရုံဧရိယာအနီး ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေး ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ပါသည်။

၃။ ကုမ္ပဏီမှ သစ်အချောစက် တည်ထောင်ခြင်းသည် သစ်တောဥပဒေ၊လုပ်ထုံးလုပ်နည်းများ နှင့် အညီ စိစစ်ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပြီး သစ်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် မြန်မာ့သစ်လုပ်ငန်းမှ ကျင်းပပြုလုပ်မည့် ပြည်တွင်း / ပြည်ပ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင်ဝယ်ယူနိုင်ပါကြောင်း နှင့် ရေရှည်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် သစ်တောဦးစီးဌာနသို့ ပုဂ္ဂလိက သစ်တောစိုက်ခင်းများ စိုက်ပျိုးတည်ထောင်ခွင့် လျှောက်ထားဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြအပ်ပါသည်။

**ကန့်သတ်**

D:\DHHM\DSSY\CD\(20-5-2015)-1.doc

၄။ သို့ဖြစ်၍ Peng Sheng Wood China Co., Ltd. မှ ရခိုင်နန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး ၊ ရွှေပြည်သာမြို့နယ် ၊ သာစုကန်စက်မှုဇုန်၊ နဝရတ်လမ်း ၊ အမှတ် - ( ၁၂၈ + ၁၂၉ ) ရှိ စုစုပေါင်းမြေအကျယ်အဝန်း ( ၁.၅ ) ဧက ( ၆,၀၇၀.၂၉ ) ကို ငှားရမ်းကာ သစ်ခွဲသား နှင့် သစ်ချောထည် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း နှင့် ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေးထိခိုက်မှုများ ရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက်အလက်များအား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် လုပ်ငန်းစနစ်အသုံးပြုခြင်း ၊ အဆိုပြုလွှာတွင်ဖော်ပြပါရှိသည့် လူမှုရေး ဆိုင်ရာတာဝန်ခံမှု (CSR) အား အမြတ်ငွေ၏ ၂% ကို အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လုပ်ငန်းစီမံချက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန်၊

(ခ) အဆိုပြု လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေး( သို့မဟုတ် ) အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination) ဆောင်ရွက်ပြီး IEE အစီရင်ခံစာတင်ပြရန်၊

(ဃ) လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ ၊ လုပ်ငန်းအစီအစဉ် ၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် ( Environmental Management Plan - EMP ) ရေးဆွဲတင်ပြရန် နှင့် အစီရင်ခံစာအရ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ နှင့် အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

( c) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

နောက်ဆက်တွဲ- ဂ






IC, 70
2715

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၅-၂၀၁၆(၅၁၄)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ မေလ ၂၂ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂.၅.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/န - ၁၂၄/ ၂၀၁၅ (၃၅၅)

၁။ Peng Sheng Wood China Co.,Ltd. သည် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာဓုကန်စက်မှုဇုန်၊ နဝရတ်လမ်း၊ အမှတ်(၁၂၈+၁၂၉)တွင် သစ်ခွဲသားနှင့် သစ်အချောထည် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး သစ်ခွဲသားနှင့် သစ်အချောထည်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Peng Sheng Wood China Co.,Ltd. မှ သစ်ခွဲသားနှင့် သစ်အချောထည် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်း

ဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန